# သမ်ဟိမွလ်အစ္စလာမီ

## အခြေခံ

# သိမှတ်ဖွယ်ရာသင်ခန်းစာ

# သူငယ်တန်းကြီး




မအူကုန်းမွတ်စ်လင်မ်များ သာရေးနာရေးအသင်း

အစ္စလာမ်ဘာသာရေး အာရ်ဗီစာသင်ကျောင်း


အမှတ် (၂/၄)၊ ၁၃၇ လမ်း၊ မအူကုန်းရပ်ကွက်၊

တာမွေမြို့နယ်၊ ရန်ကုန်မြို့။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

# M.M.A အသင်း၏ မိတ်ဆက်စကား

မိဘတို့၏အမွေအနှစ်သည် ကလေးများဖြစ်၏။ သို့ရှိရာ မိမိတို့အသိ၊ အတတ်ပညာနှင့် ဗဟုသုတများကို ရင်သွေးများအား အပ်နှံသွားရပေမည်။ ကလေးတို့အား ပညာရေးပျိုးထောင်ရာတွင် မှန်ကန်သော သာသနာ့အတွေး အခေါ်များ၊ ရဝ့်ကျက်စေမည့် အစ္စလာမ့် အခြေခံများကို သင်ကြားရန်မှာ တာဝန်ကြီးတစ်ရပ်ဖြစ်ပေသည်။

အစ္စလာမ်သည် ကလေးများအား ပြုစုမည့် ကဏ္ဍကိုလည်း ချန်လှပ်ထားခြင်းမရှိ။ မွေးရာမှ သေဆုံးသည့် တိုင် ကြုံရမည့် စခန်းမှန်သမျှတွင် လိုအပ်သော ဥပဒေ၊ စည်းကမ်းများနှင့် ဆုံးမစကားများဖြင့်ထောက်ပြနေသည်။ အရွယ်ရောက်ချိန်တန်မှ ထမ်းဆောင်ရမည့် တာဝန်ချနည်းများကို ဖယောင်းပမာ ငယ်ရွယ်စဉ် ကပင် သွန်သင်ထားရန် လိုအပ်သဖြင့် "မအူကုန်းမွတ်စ်လင်မ်များအသင်း" ပညာရေး ဆပ်ကော်မတီမှ ဤအစ္စလာမ့်အခြေခံ အသိတရားများသင်ရိုးညွှန်းတမ်းကို ပြုစုခဲ့၏။ သို့မှသာ နောင်ရေး ပူပင်ဆင်ခြင်မိကြသည့် မွတ်စ်လင်လူကြီး မိဘတိုင်း စိတ်အေးကြရပေမည်။

မိဘများဘက်မှ သားသမီးများအဖို့ အကောင်းဆုံး လက်ဆောင် ချီးမြှင့်မှုသည် ယဉ်ကျေးမှု စည်းကမ်းနှင့် သာသနာပိုင်းဆိုင်ရာ ပညာရပ်များဖြစ်သည်ဟူသော ဟဒီးစ်တော်၊ သအ်လီမွလ်အစ္စလာမ်၊ အစ္စလာမ့် ပရိယတ္တိနှင့် သောကြာတံခွန်စသည့် အစ္စလာမ့် အခြေခံ သိကောင်းစရာများကို ရွေးချယ်ကာ "သဖ်ဟိမွလ်အစ္စလာမ်" အမည်ဖြင့် လေးတွဲပြုစု ရေးသား ခဲ့ပါသည်။ ထိုအပြင် ဟဒီစ်တော် လေးဆယ်၊ စူရာငယ်များ၊ နမာဇ်တွင် ဖတ်ရသောစာပိုဒ်များ၊ မတ်စ်နူးဟ် ဒိုအာများနှင့် ကဗျာများကို သီခြားစာအုပ်တွင် ပြုစုထားပါသည်။

အစ္စလာမ်သာသနာဝင်လူငယ်၊ လူရွယ်၊ လူလတ်တို့ အတွက် စာတွေ့၊ လက်တွေ့ အလွယ်တကူ ကျက်မှတ်ကျင့်ကြံနိုင်ရန် ရည်ရွယ်ပါသည်။ အောက်ဖော်ပြပါ ဆရာများက ကောက်နုတ်စီစစ်ပါသည်။

၁။ (ရှေ့ဆောင်ဆရာ၊ မအူကုန်း မဒါး ဗလီ)

၂။ ကျောင်းအုပ်ဆရာ

ဤသဖ်ဟိမွလ်အစ္စလာမ်သည် အသင်းလက်အောက်ရှိ အစ္စလာမ်ဘာသာရေးအခြေခံကျောင်းတွင်ဆည်းပူးနေကြသော ကျောင်းသား/ သူများ အတွက်သာဖြစ်သည်။

ပညာရေးအထောက်အကူပြုကော်မတီ
မအူကုန်း မွတ်စ်လင်မ်များအသင်း၊
အမှတ် (၁၉၄)၊ စက်ရုံလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။

ရှောင်ဝလ်လ ၆ ရက်။ ဟစ်ဂျရီ ၁၄၀၅ ခု
ဇွန်လ (၂၆) ရက်၊ ၁၉၈၅ ခု။

မှတ်ချက်။ ပုံနှိပ်ရန် ရှိသဖြင့်၊ သာသနာ့ပညာရှင်များ အထူးသဖြင့် စီစစ်ပါရန် ပန်ကြားအပ်ပါသည်။

# ကျောင်းအုပ်ဆရာ၏ အမှာစာ

نَحْمَدُهٗ وَنُصَلِّيْ عَلٰى رَسُوْلِهِ الْكَرِيْمِ ۝

ဤအစ္စလာမ့် အခြေခံသဖ်ဟိမ္ပလ် အစ္စလာမ် စာအုပ်ငယ်များကို ကောက်နုတ်ရေးသားရန် ရန်ကုန်မြို့၊ တာမွေမြို့နယ်၊ မအူကုန်း မွတ်စ်လင်မ်များ အသင်း၏ တိုက်တွန်းမှုကြောင့် ပြုစုခဲ့ခြင်းဖြစ်သည်။ မွတ်စလင်လူကြီးမိဘနှင့် ဆရာသမားများအဖို့ တာဝန်ကြီး တရပ်ဖြစ်ရာ၊ ကျွန်တော့်အနေနှင့် အားလုံး ကိုယ်စား စစ်မှန်သော ကျမ်းငယ်များမှ ကောက်နုတ်ရွေးချယ်စုဆောင်းခဲ့ပါသည်။ ဤအသင်းဇော်မတီ နှင့်လူကြီး မိဘများအား အောင်မြင်မှုအဖြာဖြာ ချီးမြှင့်တော်မူပါစေ။ (အာမီးန်)

(၂) နှစ်တာ အတွေ့အကြုံအရ၊ အုပ်ထိန်းသူ မိဘများအား အကြံပြုလိုသည်မှာ၊ အစ္စလာမ်သာသနာပညာသည် နှစ်ဌာနကို အောင်မြင်စေမည်ဖြစ်ရာ

(၁) ငယ်ရွယ်စဉ်ကပင် အစ္စလာမ့် အလေ့အထ၊ အစ္စလာမ့် အကျင့်ဗိဇများကို သွန်သင်ပေးပါ။

(၂) ကျောင်းတက်ချိန် ကျရောက်တိုင်း ကလေးသူငယ်များအား ကျောင်းသို့လွှတ်ပါ။

(၃) ကျောင်းတက် မပျက်ကွက်စေရန် တစ်ခါတစ်ရံ ကျောင်းသို့လာရောက်လေ့လာပါ။

(၄) ကျောင်းသင်ခန်းစာများကို ကြိုတင်လေ့လာရန်နှင့် သင်ပြီးသား သင်ခန်းစာများကို ကျက်မှတ်ရန် သတိပေးပါ။ တစ်ခါတစ်ရံ စာအုပ်ယူပြီး မေးမြန်းပါ။

(၅) ပညာရေးကော်မတီကို အကြံပြု၍ ကူညီအား ပေးပါ။

လူသားဖြစ်သည့်အားလျော်စွာ အမှားနှင့် မကင်းနိုင်သဖြင့် အပြစ်မမြင်ပဲ အပြုသဘောဖြင့် ကော်မတီမှတဆင့် ပြင်ဆင်တိုးမြှင့်ပေးခွင့်ရှိကြောင်း ပန်ကြားအပ်ပါသည်။

ဆရာ–မိဘ၊ ကျောင်းသား–ကျောင်းသူများနှင့် အသင်းဝင်များအတွက် အရှင်မြတ်က ဤစာအုပ်ကို ဇွဒကာ အေဂျာရီယာဟ် အဖြစ်လက်ခံတော်မူပါစေသတည်း။

( အာမီန် )

ကျောင်းအုပ်ဆရာ

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

သင်ခန်းစာ (၁)



**က** ကုရ်အာန်၊ မြတ်ကျမ်းမှန်၊



**ခ** ခဝတ်ရာ၊ တစ်ပါးသာ၊



**ဂ** ဂီဘတ်၊ မပြောအပ်၊



**ဃ** ဃာဇီ၊ အောင်ပွဲချီ၊



**င** ငါတည်းမာန၊ မထားရ၊



**စ** စလာမ်၊ ပေးကြရန်၊

**ဆ** ဆရာ၊ လေးစားပါ၊



**ဇ** ဇကာ့သ်၊ ပေးဆောင်အပ်၊



**ည** ညသန်းခေါင်ထ၊ ဝတ်ပြုကြ၊



**တ** တေလာဝ့်သ်၊ စဉ်ပြုအပ်၊



**ထ** ထာဝစဉ်၊ အလ္လာဟ်ရှင်၊




**ဒ** ဒေါသ၊ ထိန်းချုပ်ရ၊



**ဓ** ဓမ္မ၊ နာယူကြ၊





**န** နမာဇ်၊ ကောင်းစွာဖတ်၊

**ပ** ပညာ၊ ရှာဖွေပါ၊

**ဖ** ဖွေကာသိ၊ ကျင့်သုံးပါ၊

**ဗ** ဗေဒါအတတ်သိ၊ မပြုအပ်၊

**ဘ** ဘိုးဘေး၊ လေးစားလေ၊

**မ** မုသား၊ မပြောကြား၊

**ယ** ယတီးမ်များ၊ ကြင်နာပွား

**ရ** ရေသန့်ကိုသာ၊ သုံးစွဲပါ၊



**လ** လကြည့်ကြ၊ ဆန်းဦးစ၊

**ဝ** ဝါစောင့်ပါ၊ ရမ်ဇန်မှာ၊



**သ** သဂျ်ဝီးဒ်ပညာ၊ သင်ယူပါ၊



**ဟ** ဟရာမ်၊ ရှောင်ရှားရန်၊



**အ** အစ္စလာမ့်တရား၊ ဒို့လေးစား



သင်ခန်းစာ (၂)

ا (အလစ်ဖ်) အလ္လာဟ်၊ တစ်ပါးသာ၊

ب (ဗာ) ဗေဒါအတ်သ်၊ ရှောင်ကြဉ်အပ်၊

ت (တာ) တောင်ဟီးဒ်ကိုသာ၊ ယုံကြည်ပါ၊

ث (ဇာ) ဇဝါးဗ်၊ ရှာဖွေအပ်၊

ج (ဂျီးမ်) ဂျဟန္နမ်၊ ကြောက်ရွံ့ရန်၊

ح (ဟာ) ဟာရာမ်၊ ရှောင်ကြရန်၊

خ (ခါ) ခေတ်မဒ်၊ ပြုလုပ်အပ်၊

د (ဒါ) ဒါ့အ့်ဝါသ်၊ စဉ်ပြုအပ်၊

ذ (သာ) သစ်ကစ်ရ်၊ ဘာဝနာ၊ ပွားများပါ။

ر (ရာ) ရတ်ဟ်မဒ်၊ ဆုတောင်းအပ်၊

ز (ဇာ) ဇကာ့သ်၊ ပေးဆောင်အပ်၊

س (စီးန်) စလာမ်၊ ပေးကြရန်၊

ش (ရှီးန်) ရှိုင်တွာန်၊ မုန်းကြရန်၊

ص (စွာဒ်) စွာဒကာ၊ လှူဒါန်းပါ။

ض (ဒွါဒ်) ဒွါလာလတ်ဒ်၊ ရှောင်ရှားအပ်၊

ط (တွာ) တွာဟာရတ်ဒ်၊ သန့်ရှင်းအပ်၊

ظ (ဇွာ) ဇုလူးမ်များ၊ တို့ရှောင်ရှား၊

ع (အိုင်န်)အေလင်မ်ပညာ၊ ရှာဖွေပါ၊

غ (ဃိုင်န်) ဂီဘတ်၊ မပြောအပ်၊

ف (ဖာ) ဖေကာဒ်များ၊ ကျင့်သုံးသွား၊

ق (ကားဖ်) ကုရ် အာန်၊ မြတ်ကျမ်းမှန်၊

ق (ကာဖ်)ကွတ်ဖ်ရှီ၊ ဂျဟာနွှမ်မီ၊

ل (လာမ်)လိလ္လာ၊ ပေးကြပါ၊

م (မီးမ်) မွတ်စလင်မ်များ၊ မေတ္တာထား၊

ن (နွှန်) နဗီ၊ တို့ယုံကြည်၊

و (ဝေါင်)ဝူဇူ၊ ဂရုမူ၊

ھ (ဟာ) ဟေဒါယတ်၊ တောင်းခံအပ်၊

ء (ဟမ်ဇ) အဇန်သံ၊ နားစိုက်ရန်၊

ى (ယာ) ယတီးမ်များ၊ ချစ်သဒ္ဒါပွား၊

ပုခက်အတွင်းမှ သချိုင်း ရောက်သည်အထိ ပညာ ရှာဖွေကြပါ။ (တမန်တော်မြတ်(စွ))



* မအာစွန်မ်လေးများ ကျောင်းထဲဝင်၊
အလ္လာ့နူရ်ရောင်ဝ်ဆင်၊
ငြိမ်းချမ်းပါစေညီနောင်အပေါင်း၊
ညီညီညွတ်ညွတ်၊ စုကာတောင်း။

---

* မအာစွန်မ် =အပြစ်မဲ့သောသူ၊ အပြစ်မရှိသော
သူငယ်များကို ဆိုလိုပါသည်။

| | |
|---|---|
|  |  |
| စော စော ထ | ဝူ ဇူ လုပ် |
|  |  |
| အ ဝတ် လဲ | ဦး ထုပ် ဆောင်း |
|  |  |
| ဗ လီ သွား | န မာဇ် ဖတ် |
|  |  |
| သအ် လင်မ် နား ဆင် | သစ် ကစ်ရ် ပွား များ |

| | |
|---|---|
| ဗ လီ ပြန် | ကုရ် အာန် ဖတ် |
| နာရှ် တာ စား | စာ အုပ် ယူ |



ကျောင်း သွား

# သင်ခန်းစာ (၃)

| | | |
|---|---|---|
| အ မာ မား | က လာမ် ဆို ဝါ | က မီး စ် စွန် |
| သရက်သီး | ခရမ်းသီး | သွပ် |
| ا - اَنْبَجْ | ب - بَاذِنْجَانْ | ت - تَنَكْ |
| ရေခဲသေတ္တာ | မော်တော်ဆိုင်ကယ် | အိတ် |
| ث - ثَلاَّجَةْ | ج - جَوَّالَةْ | ح - حَقِيْبَةْ |

အမာမား = ပကာရီ (သို့မဟုတ်) ခေါင်းပေါင်း

ကလာမ်ဆိုဝါ = ဦးထုပ်

ကမီးစ်စွန် = ကုရ်တာ (သို့မဟုတ်) အကျႌ

နံနက်ချိန်ခါ၊
အာရုဏ်ဦးမှာ
ဝတ်ပြုမလား၊
အိပ်မလား





ရေသောက်မလား၊
မတ်တတ်မသောက်ရ၊
ထိုင်သောက်ရ၏။
တမန်တော်ကျင့်စဉ်
ဖြစ်သည်။

စွလားသ်ဝတ်ပြုနေ၏၊
ရှေ့မှမဖြတ်ရ
အပြစ်ဖြစ်၏။
ဆူဆူညံညံလည်း
မနေရ၊





စာမရဘူးလား၊
လာရောက်မေးမြန်းပါ။
ရှက်မနေရ၊
ပညာတိုးတက်မည်

# သင်ခန်းစာ (၄)

| | | |
|---|---|---|
| မင်နာရာ | မင်မ်ဗရ် | အစွာ |
| ဘီဒို | စက်ဆီ | အမြီး |
| خ - خِزَانَةٌ | د - دَبَّاجَةٌ | ذ - ذَيْلٌ |
| ဒိန် | ဂျင်း | မော်တော်ကား |
| ر - رَائِبٌ | ز - زَنْجَبِيلٌ | س - سَيَّارَةٌ |

| | | |
|---|---|---|
| မင်နာရာ | = | အဇာန်ပေးရာ စဉ်မြင့် |
| မင်မ်ဗရ် | = | တရားဟောစင် |
| အစွာ | = | တရားဟောနေစဉ် အမှီပြုသောအရာ (သို့မဟုတ်) လက်ကိုင်တုတ် |

ညီညီညာရပ်ပါ
ဂျမာအတ်စနေပြီ၊
လိုင်းမကောက်ပါစေနှင့်၊
သတိထားပါ။





ဆန်းဦးစလ၊
အနောက်ဖက်မှာ၊
ထင်ရှားစွာမြင်ရ၏။
လာ၍ကြည့်ကြပါ။

ဆရာလာနေ၏။
လူစုံပြီလား၊
သင်ခန်းစာစမည်၊
နားစိုက်ထောင်ပါ။





အဇန်ပေးနေ၏။
ဆော့မနေရ ၊
ဗလီသွားပါ၊
ကုသိုလ်များစွာရ၏။

# သင်ခန်းစာ (၅)

| | | |
|---|---|---|
| တစဗိ | မစ်ဝါးက် | ကာ့အ်ဗာ |
| လဘက်ရည် | ဒုံးပျံ | ပလာစတာ |
| ش - شَايٌ | ص - صَارُوْخٌ | ض - ضِمَادٌ |
| လေယာဉ်ပျံ | စာအိတ် | ဆေးပေးခန်း |
| ط - طَيَّارَةٌ | ظ - ظَرْفٌ | ع - عِيَادَةٌ |

တစဗိ = စိပ်ပုတီး

မစ်ဝါးက် = သွားကိုတိုက်သော အသားကိုင်းတစ်ခု

ကာ့အ်ဗာ = အလ္လာဟ်၏ အိမ်တော်

# ဖတ်စာ (၃)

နေ့စဉ်စွလားသည်၊
ငါးကြိမ်ရှိသည်၊
အစဉ်အမြဲဝတ်ပြုကြပါ၊
သို့မှတာဝန်ကျေမည်။





ဦးထုပ်တစ်လုံး၊
အလွန်လှသည်၊
အမြဲဆောင်းပါ၊
တမန်တော်ဝလေ့ဖြစ်သည်။

ကာ့အ်ဗာကျောင်းတော်ကြီး၊
မက္ကာမြို့တွင်ရှိသည်၊
သွားရောက်ဖူးမျှော်ပါ၊
ဟာဂျီဖြစ်မည်။







နာရီလက်တံကလေး
တရွေ့ရွေ့သွားနေ၏။
အချိန်ကုန်သွားပြီး၊
ပြန်ယူ၍မရပါ။

# သင်ခန်းစာ (၆)

| | | |
|---|---|---|
| က ဗရ် | က ဖာန် | ပါလ် ကီ |
| အခန်း | စွပ် ကျယ် | ကော် ဖီ |
| غ - غُرْفَةٌ | ف - فَانِيلَةٌ | ق - قَهْوَةٌ |
| ဖန် ခွက် | လိမ္မော် သီး | ရေဒီယို |
| ك - كُوبٌ | ل - لَيْمُوْنٌ | م - مِذْيَاعٌ |

ကဗရ် = လူသေသောအခါ မြှုပ်သောမြေတွင်း

ကဖါန် = လူသေသောအခါ ပတ်သောအဝတ်စ

ပါလ်ကီ = သေသူအား ထမ်းယူသောထမ်းစင်

## ဖတ်စာ (၄)

သချိုင်းဝင်းတစ်ခု၊
သွားရောက်ကြပါ၊
သေသူအတွက်၊
ကုသိုလ်ပို့ပါ။




ဗလီအတွင်း၊
ပြေးလွှားမဆော့ရ၊
ဟစ်အော်ခြင်းလည်းမပြုရ၊
တိတ်ဆိတ်စွာ ထိုင်နေရမည်။

ကုရ်အာန်တစ်အုပ်၊
လူကလေးဖတ်နေသည်၊
နားထောင်ကောင်း၏၊
နေ့စဉ်ရွတ်ဖတ်ပေးပါ။





ပစ္စည်းတစ်ခု၊
ကောက်ရထား၏၊
ပိုင်ရှင်ရှာ၍ပြန်ပေးပါ။
ယူမထားရ
အပြစ်ဖြစ်၏။

| | | |
|---|---|---|
| ဟွန်ဒီ | အဗာ | ဟောက်ဇ် |
| မျက်မှန် | စာရွက် | တယ်လီဖုန်း |
| ن - نَظَّارَةٌ | و - وَرَقٌ | ه - هَاتِفٌ |
| ဆိုင်းဘုတ် | ဗလီ | နာနတ်သီး |
| لا - لَافِتَةٌ | م - مَسْجِدٌ | ء - اَنَانَاسٌ |

ဟွန်ဒီ = အလှူခံပုံး

အဗာ = အင်္ကျီတစ်မျိုး (သို့မဟုတ်) အပေါ်ခြုံထည်

ဟောက်ဇ် = ဝူဇူပြုသော ရေကန်

ဧည့်သည်လာသည်၊
ဆီး၍ကြိုဆိုပါ၊
ကောင်းမွန်စွာ ဧည့်ခံပါ၊
အိမ်အပြန်လိုက်၍ပို့ပါ။





သူဆင်းရဲတစ်ဦး၊
အလှူလာခံ၏၊
နှင်မထုတ်ရ၊
တတ်နိုင်သမျှကူညီရမည်။

စားစရာတစ်ခု၊
စားပွဲပေါ်မှာ၊
ယူ၍မစားရ၊
ပိုင်ရှင်ဆီခွင့်ပန်ပါ၊
ဟလာလ်ဖြစ်မည်။






မူးယစ်စရာ၊
ရှောင်ရှားပါ၊
ဟရာမ်ဖြစ်၏၊
ဒုစရိုက်လည်း၊
ပွားများစေသည်။

لَآ اِلٰهَ اِلَّا اللّٰهُ مُحَمَّدٌ رَّسُوْلُ اللّٰهِ



## သားချော့တေး

သားကလေးတီတီတာ၊

ဖေဖေ့အနားမှာ၊

မပီကလာ ပီကလာနဲ့၊

လာအေလာဟာဖတ်ရွတ်ခါ၊

ချစ်စရာသားသားလေး၊

အစ္စလာမ့်သားကောင်းလေး။



## ဂူရူဖရပ်စ်လေးသွယ်

ဂူရူပြုမည် စိတ်ကရွယ်၊
လေးသွယ် ဖရပ်စ်လိုပါတယ်၊
မျက်နှာသစ်ရာ တစ်တောင်ပါ၊
လက်နှစ်ဖက်လည်း ဆေးရမယ်၊
လေးပုံတစ်ပုံ ဦးခေါင်းကုန်၊
မစာကိုလည်း ပြုရတယ်၊
နောက်ဆုံးအချက်မှာ ခြေနှစ်ဖက်ပါ၊
ခြေမျက်စိပါ ဆေးရမယ်၊

(မှတ်ကွယ်.......... မှတ်ကြကွယ်။)၂

# သင်ခန်းစာ (၈)

| | | |
|---|---|---|
| လိုတာအိုး | အေ့ဟ်ရမ် | ဘွတ်ရ်ခါ |
| လက်ျာ R | ပန်းကန် | သေနတ် |
| ى - ''يَمِيْنٌ'' | ''إنِيَةٌ'' | ''بُنْدُقِيَّةٌ'' |
| ပန်းသီး | ကျောင်းသား/တပည့် | အသီး |
| ''تُفَّاحٌ'' | ''تِلْمِيْذٌ'' | ثَمَرٌ |

လိုတာအိုး = ဝူဇူပြုရာတွင် အသုံးပြုသော ခွက်တစ်မျိုး

အေ့ဟ်ရမ် = ဟာဂျီများ ဝတ်ဆင်ရသော ဝတ်ရုံ

ဘွတ်ရ်ခါ = အမျိုးသမီးခြုံထည်

# ဖတ်စာ (၆)

ရေအိုင်တစ်အိုင်၊
ရေပြည့်နေ၏။
အရမ်းယူမသုံးရ၊
သန့်မသန့်စစ်ဆေးပါ။





လူသွားလမ်းကလေး၊
ဆူးများရှိနေ၏။
ယူ၍ရှင်းလင်းပါ၊
အကျိုးကုသိုလ်ရမည်။

အီမာန်ရှင်တစ်ဦးလာ၏။
စလာမ်ပေးပါ၊
ယဉ်ကျေးစွာဆက်ဆံပါ၊
နောက်ပြောင်ခြင်းလည်းမပြုရ။





လူကြီးများထိုင်နေသည်၊
ရှေ့ကအရမ်းမဖြတ်ရ၊
ဦးညွတ်၍လည်း မသွားရ၊
ရှစ်ရိုက်ဖြစ်သည်။

# သင်ခန်းစာ (၉)

| | | |
|---|---|---|
| အာရ် ဗီ ကျောင်း | ဟာ ဒီးစ် ကျမ်း | ကာ ဗရ် စ တာန် |
| အဝတ် | ခြေ စွပ် | ဆု |
| ثَوْبٌ | جَوْرَبٌ | جَائِزَةٌ |
| မင ရည် | ရပ် ကွက် | လက် စွပ် |
| حِبْرٌ | حَارَةٌ | خَاتَمٌ |

အာရ်ဗီကျောင်း = ဘာသာရေးစာသင်ကျောင်း

ဟာဒီးစ်ကျမ်း = တမန်တော်ဩဝါဒကျမ်း

ကာဗရ်စတာန် = သင်္ချိုင်းဝင်း (သို့မဟုတ်) လူသေများ မြှုပ်နှံသော နေရာ

တမန်တော်စကား၊
မှတ်သားရသည်၊
မငြင်းပယ်ရ၊
ကာဖစ်ရှိဖြစ်မည်။





ကဗရ်တစ်ခု၊
ပြိုပျက်နေသည်၊
ပြုပြင်ခြင်းမပြုလေနှင့်၊
ပန်းမီးလည်း မထွန်းရ၊
ဗေဒါအတ်သ်ဖြစ်သည်။



လူမမာတစ်ဦး၊
သွားရောက်ကြည့်ရှုပါ၊
အားပေးစကားပြောပါ၊
ထိန့်လန့်သည့်စကား၊
မပြောလေနှင့်။



မိဘစကား၊
မြေဝယ်မကျ၊
နားစိုက်ထောင်ပါ၊
လူကောင်းလူတော်၊
ဖြစ်လိမ့်မည်။

## ဖတ်စာ (၈)

## ထာဝရအလ္လာဟ်

ကျွန်ုပ်တို့သည် ထာဝရအလ္လာဟ်ကို ယုံကြည်ရပါမည်။

ကျွန်ုပ်တို့၏ ထာဝရ အရှင်သည် အလ္လာဟ်ဖြစ်ပါသည်။

အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်းသာရှိပါသည်။

အလ္လာဟ်ရှင်မြတ်နှင့် တုပကိုးကွယ်ခြင်းကို မပြုရပေ။

ကျွန်ုပ်တို့သည် အလ္လာဟ်နှင့် တုပကိုးကွယ်လျှင် "ရှစ်ရ်က်" ဖြစ်၏။ အလ္လာဟ်ကို မယုံကြည်သူကို ကာဖစ်ရ်ဟု ခေါ်ပါသည်။ ကျွန်ုပ်တို့၏ အလ္လာဟ်သည် အိုခြင်း၊ ဖျားခြင်း၊ နာခြင်း၊ သေခြင်း၊ အိပ်ခြင်း၊ ငိုက်ခြင်းများ မရှိပါ။

ကျွန်ုပ်တို့၏ အလ္လာဟ်သည် အမြဲထာဝရတည်ရှိနေပါသည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

အလ္လာဟ်အရှင်၊ ရှစ်ရ်က်၊ ကာဖစ်ရ်

(၂) အောက်ပါကွက်လပ်များကို ဖြေပါ။

(က) ကျွန်ုပ်တို့သည် ထာဝရအရှင်ကို ............... ရပါမည်။

(ခ) ကျွန်ုပ်တို့၏ ထာဝရအရှင်သည် .............. ဖြစ်ပါသည်။

(ဂ) ကျွန်ုပ်တို့သည် အလ္လာဟ်နှင့် တုပကိုးကွယ်လျှင် ...... ဖြစ်သွားပါမည်။

(ဃ) အလ္လာဟ်ကို မယုံကြည်လျှင် ............ ဟုခေါ်သည်။

(၃) ထာဝရအရှင်၏ တည်ရှိပုံကို ရေးပြပါ။

# ဖတ်စာ (၉)

## ကျွန်ုပ်တို့၏ နဗီတမန်တော်အကြောင်း

ကျွန်ုပ်တို့ နဗီတမန်တော်၏ အမည်မှာ မိုဟမ္မဒ်ဖြစ်ပါသည်။ ကျွန်ုပ်တို့နဗီတမန်တော်၏ဖခင်အမည်မှာ အဗ္ဗဒုလ္လာဟ်ဟု ခေါ်ပါသည်။ မိခင်အမည်မှာ အမေနာဟု ခေါ်ပါသည်။ ကျွန်ုပ်တို့ နဗီတမန် တော်သည် အာရေဗျတိုင်းပြည်ရှိ မက္ကာမြို့တော်တွင် ဖွားမြင်၏။ ကျွန်ုပ်တို့နဗီ တမန် တော်၏ မွေးနေ့မှာ "ရဗီအွလ် အောင်ဝလ်" လ (၁၂) ရက်၊ တနင်္လာနေ့ ဖြစ်ပါသည်။ ကျွန်ုပ်တို့၏ နဗီတမန်တော်ကို အလ္လာဟ်အရှင်မြတ်က နောက်ဆုံးနဗီတမန်တော် အဖြစ် စေလွှတ်တော်မူ၏။ ကျွန်ုပ်တို့သည် နဗီတမန်တော်၏ အမိန့် အားလုံးကို နာခံ ရပါမည်။ ထိုနဗီ၏ အမိန့်ကို မနာခံ လျှင် ကာဖစ်ရ် ဖြစ်၏။ ထိုနဗီကို အလ္လာဟ်၏ နဗီဟု မယုံကြည်လျှင် "ကွတ်ဖ်ရ်" ငြင်းပယ်သူဟု ခေါ်ပါသည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။
နဗီတမန်တော်၊ မိုဟမ္မဒ်၊ အာရေဗျ၊ မက္ကာ၊ ရဗီအွတ်လ်အောင်ဝလ်၊ ကွတ်ဖ်ရ်၊

(၂) အောက်ပါကွက်လပ်များကို ဖြည့်ပါ။

(က) ကျွန်ုပ်တို့၏ နဗီတမန်တော်အမည်မှာ .......... ဖြစ်ပါသည်။

(ခ) ကျွန်ုပ်တို့နဗီတမန်တော်၏ဖခင်အမည်မှာ........ဟု ခေါ်ပါသည်။

(ဂ) ကျွန်ုပ်တို့နဗီတမန်တော်သည် ........... ရှိ ................ မြို့တွင် ဖွားမြင်သည်။

(ဃ) ကျွန်ုပ်တို့နဗီတမန်တော်၏ မွေးနေ့မှာ ............ လ......... ရက် ................. နေ့တွင် ဖွားမြင်သည်။

(င) ကျွန်ုပ်တို့နဗီတမန်တော်သည် အလ္လာဟ်၏ နဗီဟု မယုံကြည် လျှင် ........... ငြင်းပယ်သူဟု ခေါ်ပါသည်။



## နမိချုပ်

ရဗီအွလ်အောင်ဝလ်ဆယ့်နှစ်မှာ
နမိချုပ်မွေးနေ့ပါ။
နေ့မြတ်တနင်္လာအာရုဏ်မှာ
မွေးနေ့ချိန်အခါ၊
အပ္ပဒ္ဒလ္လဟ်အာမေနာသား
မိုအ်ဂျေဇာပြကာသွား၊
အာရေဗျပြည်မက္ကာမည်
နမိချုပ်မွေးဌာနီ၊
မျိုးနွယ်မှာ ထင်ကျော်ကြား
ကိုရိုက်ရှ်အမျိုးသား၊
မွေးရက်မကြာ မိခင်မှာ
သူ့ကိုစွန့်ပစ်ခွာ၊
ဤကမ္ဘာမှာတစ်ကောင်ဘွား
အစ္စလာမ့်ဇာနည်သား၊
သက်လေးဆယ်မှာ ဘွဲ့မည်နော်
နမိဟုတွင်ခေါ်
အများသူငါယုံကြည်ထား
သစ္စာရှင်ထင်ကျော်ကြား၊
အာရပ်တစ်ခွင်စည်းရုံးဆင်
ပွဲတိုင်းအောင်နိုင်ရှင်
သမိုင်းဝင်တွင်ကျန်ရစ်
ကမ္ဘာ့အံ့ဘွယ်ဖြစ်။

# ဖတ်စာ (၁၀)

## ကုရ်အာန်ကျမ်းမြတ်

ကျွန်ုပ်တို့သည် ကုရ်အာန်ကျမ်းမြတ်ကို နေ့စဉ်ရွတ်ဖတ်ရပါသည်။ ကုရ်အာန်ကို မဖတ်တတ်လျှင် သင်ယူရပါသည်။ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်၏ ကျမ်း စာအုပ် ဖြစ်ပါသည်။ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ နဗီ တမန်တော် မိုဟမ္မဒ်(စွ) ထံသို့ ကုရ်အာန်ကျမ်းမြတ်ကို ပို့ချပေးပါသည်။ ကျွန်ုပ်တို့ အားလုံးသည် ကုရ်အာန် ကျမ်းမြတ်တွင် ပါဝင်သော အမိန့်အားလုံးကို လိုက်နာ ကြရပါသည်။ အလ္လာဟ်အရှင် မြတ်၏ ကုရ်အာန်ကျမ်းမြတ်ကို မယုံကြည်လျှင် ကာဖစ်ရ်ဖြစ်သည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။
ကုရ်အာန်ကျမ်းမြတ်၊ ကာဖစ်ရ်၊

(၂) အောက်ပါတို့ကို ကွက်လပ်ဖြည့်ပါ။

(က) ကျွန်ုပ်တို့သည် .............. ကျမ်းမြတ်ကို ............ ရွတ်ဖတ်ရပါသည်။

(ခ) ကုရ်အာန်ကျမ်းမြတ်သည် ........... ၏ ကျမ်းစာအုပ်ဖြစ်ပါသည်။

(ဂ) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်မိုဟမ္မဒ်(စွ)ထံသို့ ......... ကို ပို့ချပေးပါသည်။

(ဃ) ကုရ်အာန်ကျမ်းမြတ်တွင် ပါဝင်သော ................ အားလုံးကို လိုက်နာ ရပါသည်။

## ဖတ်စာ (၁၁)

## နေ့စဉ်စွလားသ်အကြောင်း

တစ်နေ့လျှင်စွလားသ်ငါးကြိမ်ရှိပါသည်။ ကျွန်ုပ်တို့သည် စွလားသ် ငါးကြိမ်ကိုနေ့စဉ်ဝတ်ပြုရပါသည်။စွလားသ်သည်အရွယ်ရောက်သူမွတ်စလင်မ် အမျိုးသား၊ အမျိုးသမီးတိုင်းအပေါ် ဖရပ်စ်မပြုမနေရသော တာဝန်တစ်ရပ် ဖြစ်သည်။ စွလားသ်ကို ငယ်ရွယ်စဉ်ကလေးဘဝက စ၍ အလေ့အကျင့်ပြု ဖတ်ရပါသည်။ စွလားသ်သည် အလ္လာဟ်အရှင်မြတ်က ဖတ်ရန် အမိန့်ပေး ထားပါသည်။ အလ္လာဟ်၏ အမိန့်ကို သွေဖီလျှင် များစွာ အာဇာဗ် အပြစ်ကြီး ပါသည်။ နေ့စဉ်စွလားသ်ငါးကြိမ်အမည်မှာ –

၁။ ဖဂျရ်၊

၂။ ဇုဟ်ရ်၊

၃။ အစွရ်၊

၄။ မဂ်ရစ်ဗ်၊

၅။ အေရှာ စသည်တို့ဖြစ်သည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကိုကျက်မှတ်ပါ။
စွလားသ်၊ မွတ်စလင်မ်၊ ဖရပ်စ်၊

(၂) အောက်ပါတို့ကို ကွက်လပ်ဖြည့်ပါ။

(က) တစ်နေ့လျှင် ...................... ငါးကြိမ်ရှိပါသည်။

(ခ) စွလားသ်သည် အရွယ်ရောက်သူ မွတ်စလင်မ် .......... တိုင်း မပြု မနေရသော တာဝန်တစ်ရပ်ဖြစ်သည်။

(၃) နေ့စဉ်စွလားသ်ငါးကြိမ်အမည်ကို ရေးပြပါ။




နေမထွက်ခင် ဖဂျရ်ဖတ်လို့၊
မွန်းလွဲချိန်ကျ ဇဟိုရ်ကွယ်
အရိပ်နှစ်ပြန် အရင်းလွှက်တော့၊
အစွရ်အချိန် မှတ်ရမယ်၊
နေဝင်ချိန်မှာ မဂရစ်ဗ်ဖတ်လို့၊
ညဦးချိန်ကျ မြတ်အေရှာ၊

(ဖတ်ပါ – ဖတ်ကြပါ။)၂

## သိမှတ်ဖွယ်ရာ

ခလီဖာကြီး အဘူဗကရ်၊
အစ္စလာမ့်ရန်ကို သူတွန်းလှန်၊
ဒုတိယခလီဖာအုမရ်က၊
ကာဖစ်ရ်၊ မွတ်စလင်မ်ခွဲကာပြ၊

တတိယခလီဖာအွတ်စမန်မှာ၊
အစ္စလာမ့်အတွက်အသက်စွန့်ခါ၊
စတုတ္ထအလီခလီဖာက၊
ရဲရင့်ရာမှာ ထွန်းပြောင်လှ။

အေမာမ်သခင်ကြီးဟာနီဖာ၊
အစ္စလာမ်ကိုလမ်းညွှန်ကာ၊
ရှာဖွေအီအေမာမ်ကြီး၊
ဖေကာဟ်ပညာချမှတ်ပြီး။

အေမာမ်သခင်ကြီး မာလစ်က်မှာ
ဟာရာမ်၊ ဟာလာလ်ခွဲပြကာ၊
ဟာမ်ဗလီသခင်မြတ်၊
ဓမ္မသတ်ကို သူဆုံးဖြတ်။

# ဖတ်စာ (၁၂)

## အစ္စလာမ့်လများအကြောင်း

ကမ္ဘာပေါ်တွင် လူမျိုးအသီးသီး ယုံကြည်ကြသော ဘာသာတိုင်းတွင် သာသနာ့ လများ သတ်မှတ်ထားကြပါသည်။ သာသနာ့လများကို အခြေပြု၍ သာသနာ၏ အထွတ်အထိပ်ဖြစ်သော အခါကြီး၊ ရက်ကြီးများတွင် ဥပုသ်သီလ ဆောက်တည် ခြင်း၊ လှူဒါန်းခြင်း၊ အထိမ်းအမှတ်ပွဲ ကျင်းပခြင်းများ ပြုလုပ်ကြပါသည်။

ကမ္ဘာပေါ်တွင် အစ္စလာမ် သာသနာသည်လည်း အပါအဝင်ဖြစ်၏။ ထို့ကြောင့် အစ္စလာမ်သာသနာတွင် အစ္စလာမ့်လဟူ၍ တစ်ဆယ့်နှစ်လ ရှိပါသည်။ ထိုတစ်ဆယ့်နှစ်လကို သိမှတ်ထားကြရန် – "ဝါဂျစ်" ဖြစ်၏။ လအမည်များကို သိရှိဖို့ရာတွင်မကဘဲ လစဉ်ပြောင်းလဲမှုကိုပါ သတိပြု မှတ်သားကြရ၏။ သို့မှသာ အစ္စလာမ်သာသနာဝင်ပီသပေမည်။

အစ္စလာမ်သာသနာ၏ တစ်ဆယ့်နှစ်လအမည်များမှာ –

| | |
|---|---|
| ၁။ မိုဟာရာမ်၊ | ၇။ ရဂျတ်ဗ်၊ |
| ၂။ စွဖရ် | ၈။ ရှာအ်ဗာန်၊ |
| ၃။ ရဗီအွလ်အောင်ဝလ်၊ | ၉။ ရမ်ဇန်၊ |
| ၄။ ရဗီအွလ်စာနီ၊ | ၁၀။ ရှောင်ဝလ်၊ |
| ၅။ ဂျမာဒီအူလာ၊ | ၁၁။ ဇွလ်ကာအေဒါ၊ |
| ၆။ ဂျမာဒီစာနီ၊ | ၁၂။ ဇွလ်ဟဂျ်စသည်တို့ ဖြစ်ပါသည်။ |

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။
ဥပုသ်၊ လှူဒါန်းခြင်း၊ ဝါဂျစ်ဗ်၊

(၂) အစ္စလာမ်သာသနာတွင် လမည်မျှရှိပါသနည်း။

(၃) အစ္စလာမ်သာသနာ၏ လအမည်များကို ရေးပြပါ။




| | | |
|---|---|---|
| အစ္စလာမ့်လဆန်းမိုဟာရမ် | – | အာရှူရာနေ့ရောက်ရပြန်၊ |
| စွဖရ်ဟူသောအစ္စလာမ့်လ | – | ခိုက်တာဟူ၍မရှိရ၊ |
| မြတ်တမန်တော်မွေးလနော် | – | ရဗီအွလ်အောင့်ဝလ်ခေါ်၊ |
| ရဗီအွတ်လ်စာနီ | – | ဒို့များအန်စွာရှိ၊ |
| ဂျမာဒီဟူသောအါ်ရ်ဗီလ | – | အူလာစာနီခေါ်တွင်ကြ၊ |
| ရာဂျတ်ဗ်မှာ မေ့အ်ရာဂျ် | – | နောက်ဆုံးနဗီကောင်းကင်ကြွ၊ |
| ရှာဗေကတ်ဒ်ရ်ရှာအ်ဗန်မှာ | – | ဖွားသေစာရင်းနှစ်ချုပ်ပါ၊ |
| ရမ်ဇန်ဆိုတာဥပုသ်လ | – | ညမြတ်ကဒရ်ရှာဖွေကြ၊ |
| အီးဒွလ်ဖစ်သရီရှောင်ဝလ်မှာ | – | ဒိုးများပျော်ရွှင်စွာ |
| ဇွတ်လ်ကာအေဒါမှာဟာဂျီများ | – | မက္ကာမြို့ကိုသွား၊ |
| ဇွတ်လ်ဟာဂျ်မှာ အီမာန်ရှင် | – | အလ္လာ့အတွက်လှူပွဲဆင်၊ |
| ဒို့တတွေနဲ့လေးသား | – | ဆယ့်နှစ်လရာသီအား။ |




## လမြတ်မွန်

ရှာအ်ဗန်၊ ရမ်ဇန်လမြတ်ကြီးမို့၊ မွန်မြတ်လတဲ့ညနှစ်ညကွယ်၊
ဘရားသ်ညမှာ အေဗာဒတ်သ်ပြုလို့၊ ကဒရ်ညကို ရဘို့ကွယ်၊
ကဒရ်ဆိုတာဘယ်လို့လဲကွဲ့ .................
လပေါင်းတစ်ထောင်ထက်သာမြတ်တယ်၊
အေဗာဒတ်သ်ပြုရင်အတူသွားစို့၊
ဒို့များကိုလည်း၊ မမေ့နဲ့ကွယ်
ဒို့လည်းလိုက်မယ်ဗလီကျောင်းသို့၊ မအိပ်ဘဲနဲ့
ဇစ်ကစ်ရ်ပြုမယ်

(သွားမယ်..... သွားကြမယ်။)[၂]

## ဖတ်စာ (၁၃)

# ဥပုသ်သီလ (ဝါ) ဝါစောင့်ခြင်းအကြောင်း

ကျွန်ုပ်တို့သည် ရမ်ဇန်လရောက်တိုင်း ဝါစောင့်ကြရပါသည်။ အာရ်ဗီလို ဆွိုယမ်ဟု ခေါ်ပါသည်။ ရိုဇာဟ်ဟုလည်း ခေါ်ပါသည်။ ဆွိုယမ် (ခေါ်) ရိုဇာဟ်သည် အရွယ်ရောက်သူအမျိုးသား၊ အမျိုးသမီးတိုင်း ထားကြရပါသည်။ ရိုဇာဟ်သည် အလ္လဟ်အရှင်မြတ်ဖက်မှ လာသောအမိန့်ဖြစ်သည်။ ရိုဇာဟ်ထားနိုင်ရန် ငယ်စဉ်အရွယ်ကစ၍ အလေ့အကျင့်ပြုကြရပါသည်။ ရိုဇာဟ်ကို ငြင်းပယ်လျှင် "ကာဖစ်ရ်" ဖြစ်သည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

ရမ်ဇန်၊ အာရ်ဗီ၊ ဆွိုယမ်၊ ရိုဇာဟ်၊

(၂) အောက်ပါတို့ကို တိုတိုတုတ်တုတ်ဖြေဆိုပါ။

(က) မည်သည့်လရောက်တိုင်း ရိုဇာဟ်ထားရပါသနည်း။

(ခ) ဝါစောင့်ခြင်းကို အာရ်ဗီဘာသာဖြင့် မည်သို့ခေါ်ပါသနည်း။

(ဂ) ရိုဇာဟ်ထားရန် မည်သူတို့အပေါ် တာဝန်ရှိပါသနည်း။

(ဃ) ရိုဇာဟ်ကို မည်သူကသတ်မှတ်ပေးပါသနည်း။

(င) ဝါစောင့်နိုင်ရန် မည်သို့အလေ့အကျင့်ပြုရပါသနည်း။

## ဖတ်စာ (၁၄)

## ယဉ်ကျေးမှုရှိရမည့်အကြောင်း

လူကြီးမိဘများနှင့် တွေ့သောအခါ ဦးစွာစလာမ်ပေးရပါသည်။ စကားပြော သောအခါ၌လည်း ချိုသာစွာပြောဆိုရပါသည်။ မောက်မာခက်ထန်သော စကားများကို မပြောဆိုရပေ။ လူကြီးမိဘများ၏ ဆုံးမသြဝါဒများကိုနာယူကြရပါသည်။ကြီးသူ ကို ရိုသေလေးစားပြီး၊ ရွယ်တူကိုလေးစားကာ၊ ငယ်ရွယ်သူကို ကြင်နာမှုထားရပါသည်။လူကြီးမိဘများ၏ ရှေ့သို့ဖြတ်လျှင်လည်း ကောင်းမွန်စွာဖြတ်သွားရပါသည်။ လူကြီးမိဘများ စိတ်ညစ်စရာဖြစ်အောင်ပြေးလွှားဖြတ်သန်းခြင်းမပြုရပေ။ထိုသို့ နေထိုင်ပြုကျင့်မှသာလျှင် လူကြီးမိဘများ ချစ်ခင်ကြပေမည်။

### လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

စလာမ်၊ သြဝါဒ၊

(၂) အောက်ပါမေးခွန်းများကိုဖြေဆိုပါ။

(က) လူကြီးမိဘများနှင့် တွေ့လျှင် မည်သို့ပြုရပါသနည်း။

(ခ) လူကြီးမိဘများရှေ့သို့ သွားလျှင် မည်သို့သွားရပါသနည်း။

## ဖတ်စာ (၁၅)

## အတုယူစရာ ကလေးတစ်ဦးအကြောင်း

တမန်တော်မိုဟမ္မဒ်(စွ) ငယ်စဉ်ကလေးဘဝတွင် "ကာ့အ်ဗာ" ကျောင်းတော်ကြီး၏ တံတိုင်းတစ်ခုသည် ပြိုပျက်သွား၍ ပြန်လည်မွမ်းမံပြုပြင်နေချိန်၌ လူတို့သည် ကုသိုလ်ရလိုကြ၍ ကိုယ်ထူကိုယ်ထစနစ်ဖြင့် စိတ်တိုင်းကျ ပါဝင်လုပ်ကိုင်နေကြသည်။

ယင်းသို့ လုပ်ကိုင်နေကြသူများတွင် ကလေးများလည်း ပါဝင်ကူညီကြပါ သည်။ ကလေးများသည် အုပ်ချပ်များကို ပုခုံးပေါ်တင်၍ တံတိုင်းပြုပြင်ရာသို့ ယူဆောင်သယ်ပိုးကြပါသည်။ အချိန်ကြာညောင်းလာသောအခါ ပုခုံးများ နာလာ၍ ဝတ်လာသော အဝတ်များကို ချွတ်ခဲ့ါ ပုခုံးတွင်ခု၍ ဆက်လက် သယ်ပိုးကြပါသည်။

ထိုအလုပ်ထဲတွင် ကျွန်ုပ်တို့၏ တမန်တော်လောင်းသည်လည်း နာကျင်၍ ဖူးယောင်နေသည်ကို ဘကြီးဖြစ်သူက တွေ့မြင်သဖြင့် တူတော်အား အခြားကလေးများနည်းတူ အဝတ်ကိုချွတ်၍ ခိုင်းလေ၏။ တမန်တော်လောင်းသည် ဘကြီး၏ ပြောစကားအတိုင်းပြုလုပ်ရန် ကြံရွယ်စဉ် အလွန်ရှက်သဖြင့် မူးမေ့၍ သွားလေသည်။ ကျွန်ုပ်တို့တမန်တော်မြတ်သည် ငယ်စဉ်ကလေးဘဝကတည်းက အလွန်ရှက်တတ် သော ပုဂ္ဂိုလ်တစ်ဦးဖြစ်ပါသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည်လည်း ငယ်ရွယ်စဉ် အခါ ကပင် အရှက်တရားရှိကြရန် လိုပေသည်။

## လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

ကုသိုလ်၊ မိုဟာမွဒ်၊ ပုဂ္ဂိုလ်၊

(၂) အောက်ပါမေးခွန်းတို့ကိုဖြေဆိုပါ။

(က) မည်သည့်တံတိုင်းပြိုပျက်သွားပါသနည်း။

(ခ) လူတွေအဘယ်ကြောင့် ကိုယ်ထူကိုယ်ထစနစ်ဖြင့် ပြုလုပ်ကြပါသနည်း။

(ဂ) ကလေးတစ်ဦးက အဘယ်ကြောင့် မူးမေ့၍လဲသွားပါသနည်း။

ဖတ်စာ (၁၆)

## မိဘစကားနာခံသော ကလေးတစ်ဦးအကြောင်း

ရှေးအခါက "ရှရ်ဖွတ်ဒင်းန်"ဟူသော ကလေးတစ်ဦးရှိ၏။ ထိုကလေးသည် မိဘကို ရိုသေကိုင်းရှိုင်းလျှက် အစဉ်အမြဲ မိဘစကားကို မြေဝယ်မကျ ဦးထိပ်ပန်ဆင်ခဲ့၏။ မိဘ၏ ဝတ်ကြီး ဝတ်ငယ်ပြုရာတွင် မည်သည့်အခါမျှ ငြီးငြူခြင်းမပြုခဲ့ပေ။ တစ်နေ့သ၌ ထိုကလေးငယ်သည် မိခင်ကို နှိပ်နယ်ပေးနေစဉ် မိခင်ဖြစ်သူက ရေသောက်ချင်၍ ရေခပ်ခိုင်းရာ ထိုကလေးသည် အပြေးအလွှား ရေခပ်ယူလာရာ မိခင်ဖြစ်သူ အိပ်ပျော်နေသည်ကို တွေ့သဖြင့် မိခင်နိုးလာလျှင် အလွယ်တကူ ရေသောက်နိုင်ရန် မိခင်၏ ခေါင်းရင်းတွင် ရေခွက်ကို ကိုင်လျှက် ရပ်နေလေသည်။

မိခင်သည် ညဥ့်သန်းကောင်ကျော်သည့် အချိန်တွင် အိပ်ရာမှ နိုးထလာသောအခါ ခေါင်းရင်းတွင် ရေခွက်ကို ကိုင်လျှက် မတ်တတ်ရပ်နေသည့် သားငယ်ကို မြင်တွေ့သဖြင့် မိခင်က "ငါရေတောင်းသည့်အချိန်ကစပြီး ရပ်နေတာလား"ဟု မေးရာ ထိုကလေးက "ဟုတ်ကဲ့ အမေအိပ်ရာထဲမှထလျှင် အလွယ်တကူ ရေသောက်နိုင်ရန် ရပ်စောင့်နေခြင်းဖြစ်ပါသည်" ဟု ပြောလိုက်လေသည်။ မိခင်သည် သားငယ်၏ အလိုက်သိတတ်မှုအတွက် လွန်စွာ ဝမ်းသာပြီး အလ္လာဟ်အရှင်မြတ်ထံ ဆုမွန်ကောင်းတောင်းလေသည်။ ထိုကလေးသည် "ရှရ်ဖွတ်ဒင်းန်"မည်သော ကလေးဖြစ်ပြီး ကြီးပြင်းလာသောအခါ အလွန်ထင်ရှားကျော်ကြားသော ဝလီသူတော်စင် တစ်ပါးဖြစ်ခဲ့လေသည်။

## လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

ရှရ်ဖွတ်ဒင်းန်၊ ကိုင်းရှိုင်း၊ ဝလီ၊ သူတော်စင်

(၂) အောက်ပါမေးခွန်းများကို ဖြေဆိုပါ။

(က) မိခင်စကား နာခံသော ကလေးတစ်ဦး၏ အမည်ကိုရေးပါ။

(ခ) ထိုကလေးကို မိခင်က ဘာယူခိုင်းသနည်း။

(ဂ) ရေခပ်ပြီး ထိုကလေး ဘာပြုလုပ်သနည်း။

(ဃ) မိဘစကား နာခံခဲ့သော ကလေးသည် ကြီးပြင်းလာသော အခါ မည်သို့သော အဆင့်သို့ ရောက်သွားပါသနည်း။

## ဖတ်စာ (၁၇)

## သက်ကြီးရွယ်အိုများကို လေးစားမှုအကြောင်း

တစ်နေ့သောအခါ တမန်တော်မြတ် (ဆွ) က မိမိရှေ့တွင်ရှိသော ဟာဇရတ် အဘူဗကာရ်သခင်နှင့် ဟာဇရတ်အုမရ်သခင်နှစ်ဦးတို့ကို အောက်ပါ မေးခွန်းမေးလိုက်လေ၏။

နှစ်စဉ်သီးပွင့်ပြီး ထွတ်မြတ်၍ မည်သည့်အခါမှ မညှိုးနွမ်းသော သစ်ပင်မှာ မည်သည့်သစ်ပင်ဖြစ်ပါသနည်းဟု မေးလိုက်ရာ ထိုပုဂ္ဂိုလ်နှစ်ဦး နှင့်အတူ အခြားသော အပေါင်းအပါများ မဖြေဆိုနိုင်ကြပေ။

ထိုလူထုပရိတ်သတ်ထဲတွင် ဟာဇရတ်အုမရ်၏သား၊ အဗဒ္ဒုလ္လာဟ် သခင်လည်း ရှိနေပေသည်။ အဗဒ္ဒုလ္လာဟ်သခင်၏ အသက်သည် ထိုပုဂ္ဂိုလ် များနှင့် ငယ်ရွယ်သူဖြစ်နေ၍ ကိုယ်တော်၏ အမေးကို ဖြေနိုင်ပါလျက် မဖြေ ဘဲနေခဲ့၏။ မိမိအနေဖြင့် ဖြေလိုက်လျှင် လူကြီးများ ရှက်သွားမည်ကို စိုးရိမ် သဖြင့် မဖြေဘဲ စိတ်ငြိမ်စွာ နေခဲ့လေသည်။

အိမ်သို့ရောက်သောအခါ ဖခင်သည် မိမိ၏သားက အဖြေသိနေ ကြောင်း သိရသဖြင့် သားအား ထိုပရိတ်သတ်ထဲတွင် အဘယ်ကြောင့် မဖြေ သနည်းဟု မေးရာ သားဖြစ်သူက မိမိအနေဖြင့် ပြောလိုက်လျှင် လူကြီးများ ရှက်သွားမည်ကို စိုးရိမ် သောကြောင့် ကျွန်တော်မဖြေလိုက်ပါဟု ပြောလေ ၏။ ဟာဇရတ်အုမရ်သခင်သည် သား၏ ဖြေကြားချက်ကို ကြားရ၍ များစွာဝမ်းသာလေ၏။ ထိုမေးခွန်း၏ အဖြေကား "စွန်ပလွံပင်" ဖြစ်လေသည်။

## လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

ဟာဇရတ်၊ ပရိသတ်၊ အခါ့ဗကာရ်၊ အုမရ်၊ အပွဒ္ဒလ္လာဟ်၊

(၂) အောက်ပါမေးခွန်းတို့ကို ဖြေပါ။

(က) တမန်တော်မြတ် (စွ) သည် မည်သူတို့ကို မေးခွန်းမေးပါသနည်း။

(ခ) တမန်တော်မြတ် (စွ) သည် မည်သည့်မေးခွန်းကို မေးပါသနည်း။

(ဂ) ထိုမေးခွန်းကို မည်သူက သိပါသနည်း။

(ဃ) ထိုလူငယ်သည် သိလျက်နှင့် အဘယ်ကြောင့် မဖြေသနည်း။

(င) ထိုမေးခွန်း၏အဖြေကား အဘယ်နည်း။

## ဖတ်စာ (၁၈)

## ဆုံးမစကားအကြောင်း

ရှေးအခါက ဟာရွန်ရရှီးဒ်ဟူသော ဘုရင်တစ်ပါးရှိ၏။ ထိုဘုရင်၌ ရောဂါဝေဒနာတစ်ခု စွဲကပ်နေလေ၏။ ထိုဘုရင်သည် မိမိ၏ရောဂါ အခြေအနေ ကောင်းမွန်လာတော့မည့် အခြေအနေသို့ ရောက်လာတော့မည် မဟုတ်ဟု ထင်မှတ်လေ၏။ ထို့ကြောင့် မိမိသေဆုံးသောအခါ မြှုပ်နှံရန် (ကဗရ်)မြေတွင်းတစ်ခုကို တူးဖော်စေလေ၏။ ၎င်းကဗရ် ပြီးသွားသော အခါ ထိုဘုရင်သည် မိမိ၌ စွဲကပ်နေသော ရောဂါဝေဒနာဖြင့် မိမိတူးဖော်ထားခိုင်းသော ကဗရ်ကို သွားရောက်ကြည့်ရှုပြီး ဝမ်းနည်း၍ ငိုကြွေးလေတော့သည်။

ဘုရင်မင်းမြတ်သည် ကျန်းမာပျော်ရွှင်ချိန်က အဖြစ်အပျက် အလုံးစုံ ကိုလည်း မြင်ယောင်မိလေသည်။ ဘုရင်သည် ဝမ်းနည်းငိုယိုလျှက် မိမိကိုယ်ကို ဤသို့ ဆုံးမခဲ့လေသည်။

အို-ဟာရွန် အသင်သည် တိုင်းပြည်၏ ဘုရင်တစ်ပါးဖြစ်သည်။ သင်၏ ဘဏ္ဍာတော်တွင် တန်ဖိုးမဖြတ်နိုင်သော ရွှေ၊ ငွေ မြောက်များစွာ ရှိ၏။ သင်၏ လူအင်အား၊ လက်နက်အင်အား၊ ပစ္စည်းအင်အားတောင့်တင်းခိုင်မာမှုကြောင့် အခြားသော တိုင်းပြည်များက သင့်ထံ ဦးညွတ်ကြကုန်၏။ ယခု သင်၏ ဘုရင်အဖြစ်သည် ကုန်လုနီးပါးဖြစ်ပြီ။ သင်၏နောက်သို့ ကျန်သည့်ပစ္စည်းများလည်း ပါသွားမည်မဟုတ်။ သင်နှင့်အတူ လေးတောင်မျှရှိသော ကဗရ်သာ ကျန်ရှိမည်။ သခင်၏ ခရီးဆုံးသည် သုခဘုံ(သို့)အပယ်ငရဲလော။ ဤ ဌာန နှစ်ဌာန၌ အသင် မည်သည့်နေရာတွင် ရောက်ရမည်ကို အသင်မသိရပေ။

အို-အာဒမ်၏ သား သမီး၊ မြေး အပေါင်းတို့၊ သင်တို့၏ အမွေအနှစ်သည် လေးတောင်သာရှိသော ကဗရ်မြေတွင်းဖြစ်သည်။ သူဌေး၊ သူကြွယ်၊ သူဆင်းရဲ၊ တိုင်းပြည်ကို အုပ်ချုပ်ရသော ဘုရင်ဖြစ်လင့်ကစား ကုန်သည်ထက် ပို၍ မရယူကြပါ။ အသင် တမလွန်ဘဝမှ ပြုခဲ့သော ကောင်းမှု၊ မကောင်းမှုသာလျှင် အသင်တို့အား ဂျန္နသ်နှင့် ဂျဟန္နမ်သို့ ပို့ဆောင်မည်ဖြစ်ပေသည်။ လောကဥ္စရှိသော ပစ္စည်းများသည် သင်တို့နှင့် ပါသွားမည် မဟုတ်ပေ။ အခြား ကျန်သူအတွက်သာလျှင် ဖြစ်သည်ဟု ပြောဆိုလျှက် ဘုရင်သည် ထိုနေ့ညတွင်ပင် အလ္လာဟ်အရှင်မြတ်၏ အမိန့်ကို ခံယူသွားလေသည်။

## လေ့ကျင့်ခန်း

(၁) အောက်ပါတို့ကို ကျက်မှတ်ပါ။

ကဗရ်၊ သချိုင်း၊ ဂျန္နသ်၊ ဂျဟန္နမ်၊ ဒိုဇာက်ခ်

(၂) အောက်ပါ မေးခွန်းတို့ကို ဖြေဆိုပါ။

(က) ဟာရွန်ရရှီးဒ်ဘုရင်၏ ကျန်းမာရေးအခြေအနေကို ဖော်ပြပါ။

(ခ) ဘုရင်သည် မည်သည့်အလုပ်ကို ပြုလုပ်စေသနည်း။

(ဂ) ဘုရင်သည် မိမိကိုယ်ကို မည်သို့ ဆုံးမခဲ့သနည်း။

## ဇာတ်စာ (၁၉)

## မွန်မြတ်တဲ့လူငယ်လေးအကြောင်း

ရှေးအခါက အလွန်မွန်မြတ်သော အမျိုးအနွယ်မှ လူငယ်လေး တစ်ဦး ထွန်းကားလာခဲ့လေ၏။ ထိုလူငယ်လေးအား အများသူငါက ဟာစန်ဟုခေါ် ဆိုကြလေသည်။ ဟာစန်ဆိုသည်မှာ အာရဗီစကားဖြစ်၏။ လှပသူကောင်းမြတ်သူဟု အဓိပ္ပါယ်ရပါသည်။

ထိုလူငယ်လေးသည် တစ်နေ့သ၌ လမ်းလျှောက်ရင်း လမ်းဘေး တစ်နေရာတွင် ဆင်းရဲသားအချို့ထိုင်ပြီး ထမင်းစားကြရန် ပြင်ဆင်နေသည် ကို တွေ့လေသည်။ ဆင်းရဲသူ၊ ဆင်းရဲသားတို့သည် ထမင်းကောင်း ဟင်းကောင်းဖြင့် မစားကြရပေ။ ပဲဟင်းဖြင့်သာ စားနိုင်ကြပေသည်။

ထိုလူငယ်လေးသည် ၎င်းတို့ ထမင်းဝိုင်းအနားသို့ ရောက်သွားသော အခါ သူဆင်းရဲများက ရိုသေလေးစားစွာ ဝိုင်းဝန်းစလာမ်ပေးကြလေသည်။ ထိုလူငယ်လည်း စလာမ်တုံ့ပြန်လိုက်လေသည်။ ၎င်းလူငယ်ကို သူဆင်းရဲများက "အို – မြင့်မြတ်သော လူငယ်၊ ကျွန်ုပ်တို့နှင့် ဝင်ရောက်၍ ထမင်း အနည်းငယ် သုံးဆောင်လှဲ့ပါ" ဟု ပြောလေ၏။

လူငယ်ကလေးက ငါသည် မြင့်မြတ်သော အနွယ်ဝင်ဆိုပြီး မာန်မာန စိတ် မထားဘဲ ဤဆင်းရဲသားများနှင့်အတူ ထမင်းဝင်စားလိုက်မည်၊ သို့မှသာ ဤဆင်းရဲသူ ဆင်းရဲသားတို့၏ စိတ်သည် ပျော်ရွှင်သွားပေမည်ဟု စိတ်ကူးပြီး ထိုဝိုင်းထဲသို့ ထိုင်၍ ပျော်ရွှင်စွာ စားသောက်လိုက်လေသည်။ ထမင်းစားပြီး သောအခါ လူငယ်လေးက သူဆင်းရဲတို့အား စလာမ်ပေးနှုတ်ဆက်ပြီး ထွက်ခွာသွားလေသည်။ ထိုလူငယ်မှာ တမန်တော်မြတ် (ဆွ) ၏ မြေးတော်၊

စတုတ္ထခေလိဖာကြီးဟာဇရတ်အလီ (ရခွေ့) သခင်၏သား ဟာစန်ပင် ဖြစ်သည်။

ဤသို့ မိမိကိုယ်ကို မာနမထား၊ လူမျိုးမခွဲခြားဘဲ တန်းတူ ပြောဆိုဆက်ဆံခြင်းသည် အစ္စလာမ်၏ အဓိကကျသော အချက်တစ်ချက်ပင် ဖြစ်လေသည်။

## လေ့ကျင့်ခန်း

၁။ အောက်ပါတို့ကို ကျက်မှတ်ပါ။

ဟာစန်၊ အာရ်ဗီ၊ အဓိပ္ပါယ်၊ စလာမ်၊ အစ္စလာမ်

၂။ အောက်ပါမေးခွန်းများကိုဖြေဆိုပါ။

(က) လူငယ်လေး၏အမည်နှင့် အမျိုးအနွယ်အကြောင်းရေးပါ။

(ခ) လူငယ်လေးသည် လမ်းတွင် ဘာမြင်တွေ့သနည်း။

(ဂ) သူဆင်းရဲများက ထမင်းစားရန် ကျွေးသောအခါ၊ ၎င်းလူငယ်က မည်သို့ စိတ်ကူးသနည်း။

(ဃ) ထိုလူငယ်သည် မည်သူ၏ မြေးဖြစ်ပါသနည်း။

(င) ယဉ်ကျေးစွာ ဆက်ဆံခြင်းသည် အစ္စလာမ့်တရား၌ မည်သည့် အဆင့်တွင် ရှိပါသနည်း။

## ဖတ်စာ (၂၀)

## စံယူထိုက်ဖွယ်အကြောင်း

ရှေးနှစ်ပေါင်း တစ်ရာကျော်လောက်က အိန္ဒိယနိုင်ငံတွင် ကလေး တစ်ဦး ရှိ၏။ ထိုကလေးသည် ငယ်ရွယ်စဉ်ကပင် တရားဒေသနာတော်ကို လိုက်နာ ကျင့်သုံးလေ့ရှိခဲ့၏။ ထိုကလေးသည် ငယ်စဉ်အခါက ရွယ်တူ ကလေးများနှင့် ကစားသည့် အခါ၊ အခြားသော ကစားနည်းတစ်မျိုးဖြင့် တစ်ဦးတည်း ကစားလေ့ရှိ၏။ ထိုကလေး၏ ကစားနည်းမှာ ရွယ်တူ ကလေးများ၏ ဖိနပ်များကို ယူ၍ဖြောင့်တန်းစွာ စီတန်းပြီး၊ ဖိနပ် တစ်ဖက် ကို ရှေ့သို့တိုးစေကာ "ဟော ဖိနပ်တွေတောင် နမားဇ်ဝတ်ပြု နေတယ်" ဟု ဝမ်းသာအားရ ဟစ်အော်ပြောဆိုနေလေ့ရှိ၏။

တစ်နေ့သ၌ ထိုကလေးအား မိဘများက ဈေးဝယ်ခိုင်းလိုက် လေ သည်။ ထိုကလေးသည် ဈေးသွားဝယ်သည့်အခါ ဗလီရှိရာဖက်သို့ ထွက်သွား ပြီး၊ ဗလီထဲဝင်ကာ လူသူမရှိခိုက် မင်န်ဗရ် (သို့မဟုတ်) တရားဟော စင်ပေါ် တက်ပြီး အားရပါးရ၊ (ခွသ်ဗာဟ်) တရားဟောပြီး၊ ပီတိဖြာလျက် ဈေးသို့ ထွက်သွားလေ၏။ ထိုကလေးသည် ငယ်စဉ်ကပင် နမားဇ်ဝတ်ပြုခြင်းကို စိတ်ပါဝင်စားစွာ အစဉ်အမြဲဖတ်လေ့ရှိ ခဲ့၏။

ထိုကလေး အသက် (၁၂) နှစ် (၁၃) နှစ် အရွယ်သို့ ရောက်လာသော အခါ ညသန်းခေါင်ယံအချိန်ထပြီး "သဟ်ဂျုတ်စ်" နမားဇ်ဝတ်ပြုနေလေ့ ရှိ၏။ ထိုကလေးသည် အလွန်အေးသော ရာသီတွင်လည်း ထိုသို့ဝတ်ပြုခြင်း ကို မပျက်ကွက်ခဲ့ပေ။ ဤသို့ အစဉ်အမြဲဝတ်ပြုသည့်အတွက် ထိုကလေး၏ အဖွားက စိတ်မချသဖြင့် ည တွင် ထပြီး၊ ထိုကလေးအား စောင့်နေရလေ သည်။

ဤသို့သော အကျင့်သီလကောင်းမှုကို ငယ်စဉ်အရွယ်ကပြုကျင့်ခဲ့သော ကြောင့် ထိုကလေး ကြီးပြင်းလာသောအခါ အလွန်ကျော်ကြားသော ပညာရှင်ကြီး တစ်ပါးဖြစ်ခဲ့လေသည်။ ၎င်း၏အမည်မှာ "မောင်လာနာ အဂျ်ရဖ်အလီ" (ထာနဝီ) သခင်ကြီး ဖြစ်လေသည်။

## လေ့ကျင့်ခန်း

၁။ အောက်ပါတို့ကို ကျက်မှတ်ပါ။

ဗလီ၊ မင်နိဗရ်၊ ခွသ်ဗာ၊ သဟ်ဂျတ်စ်၊ မောင်လာနာ၊

၂။ အောက်ပါမေးခွန်းတို့ကိုဖြေဆိုပါ။

(က) ထူးဆန်းသောကလေးတစ်ဦး၏ ကစားပုံကိုရေးပါ။

(ခ) ၎င်းကလေးကို မိဘက ဈေးဝယ်ခိုင်းလျှင် မည်သို့ပြုပြီးမှ ဈေးဝယ်သွားပါသနည်း။

(ဂ) ထိုကလေးကား မည်သူဖြစ်ပါသနည်း။

# မှတ်သားဖွယ်

| | | |
|---|---|---|
| နှာမောင်း | ကြက်ဖ | သင်ခန်းစာ |
| خُرْطُوْمٌ | دِيْكٌ | دَرْسٌ |
| ဝံပုလွေ | တံတွေး | ကလောင်သွား |
| ذِئْبٌ | رِيْقٌ | رِيْشَةٌ |
| ဖန် | ပန်း | သင်ပုန်း |
| زُجَاجٌ | زُهْرَةٌ | سُبُّوْرَةٌ |
| ကစားစရာ | လျှပ်စစ် | လက်ကောက် |
| أَلْعُوْبَةٌ | بَرْقٌ | سِوَارٌ |

| | | |
|---|---|---|
| ပြူတင်းပေါက် | လမ်း | ဟင်းကန်ပြား |
| شُبَّاكٌ | شَارِعٌ | صَحْنٌ |
| မိတ်ဆွေ | အံသွား | ဧည့်သည် |
| صَدِيقٌ | ضِرْسٌ | ضَيْفٌ |
| စားပွဲ | သမင် | ဇက်ကြိုး |
| طَاوِلَةٌ | ظَبْيٌ | عِنَانٌ |
| လည်ဆွဲ | အဖုံး | အခန်း |
| عِقْدٌ | غِطَاءٌ | غُرْفَةٌ |

| | | |
|---|---|---|
| နံနက်စာ | မိန်းမပျို | ခုံဖိနပ် |
| فُطُورٌ | فَتَاةٌ | قَبْقَابٌ |
| အိုး | ကော်ပီစာအုပ် | ဖန်ခွက် |
| قِدْرٌ | كُرَّاسَةٌ | كَأْسٌ |
| လျှာ / စကား | ကျောက်တံ | ခဲတံ |
| لِسَانٌ | لَوْحُ الْحَجَرِ | مِرْسَمٌ |
| ဒယ်ပြား | ပျားကောင် | ပုရွက်ဆိတ် |
| مِحْبَرَةٌ | نَحْلٌ | نَمْلٌ |

| | | |
|---|---|---|
| ခေါင်းအုံး | နှင်းဆီပန်း | ကြောင် |
| وِسَادَةٌ | وَرْدَةٌ | هِرٌّ |
| လက်ဝဲဘက် ယာ ဝဲ R L | လက် | လိုတာအိုး |
| يَسَارٌ | يَدٌ | مِطْهَرَةٌ |

## အာရဗီဂဏန်း(၁၀)

| | | | | | |
|---|---|---|---|---|---|
| ၁ | وَاحِدٌ | (တစ်) | ၆ | سِتَّةٌ | (ခြောက်) |
| ၂ | اِثْنَانِ | (နှစ်) | ၇ | سَبْعَةٌ | (ခုနစ်) |
| ၃ | ثَلَاثَةٌ | (သုံး) | ၈ | ثَمَانِيَةٌ | (ရှစ်) |
| ၄ | اَرْبَعَةٌ | (လေး) | ၉ | تِسْعَةٌ | (ကိုး) |
| ၅ | خَمْسَةٌ | (ငါး) | ၁၀ | عَشَرَةٌ | (တစ်ဆယ်) |

# စလာမ်ကဗျာ

လူကြီးတွေကို လမ်းမှာတွေ့လို့၊
စလာမ်ပေးလို့ နှုတ်ဆက်မယ်၊
စကားပြောတာ ချိုသာအေးလို့၊
ယဉ်ယဉ်ကျေးကျေး ရှိရမယ်။
မွတ်စလင်မ်ဆိုတာ ညီအစ်ကိုချင်းမို့၊
လူတန်းစားလည်း မခွဲနဲ့ကွယ်၊
ဂုဏ်မောက်မာန စိတ်မှာထားလို့၊
ဂျုန္နသ်ဝင်ဘို့ ခက်လိမ့်မယ်၊
ဂျုန္နသ်သုခဘုံ ရောက်တဲ့ဆေးက၊
နမားဇ်ငါးကြိမ် ဖတ်ရမယ်၊
(ဖတ်ကွယ် ......... ဖတ်ကြစွကွယ်)၂